ကုမ္ပဏီအမည် - Agarwin Keystone Company Limited

လုပ်ငန်း - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်မွှေးစိုက်ပျိုးခြင်းနှင့် သစ်မွှေးဆီ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၃-၉-၂၀၁၄ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ စိစစ်ရန် ပေးပို့ခြင်း | ၂၅-၉-၂၀၁၄ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန | ၂၅-၉-၂၀၁၄ | ၃-၁၀-၂၀၁၄ | ၈ ရက် |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ပထမအကြိမ်) | ၃၀-၉-၂၀၁၄ | ၂၁-၁၁-၂၀၁၄ | ၅၂ ရက် |
| | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ဒုတိယ အကြိမ်) | ၁၁-၁၀-၂၀၁၄ | | |
| | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (တတိယ အကြိမ်) | ၂၇-၁၀-၂၀၁၄ | | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (ပထမအကြိမ်) | ၃၀-၉-၂၀၁၄ | ၂၂-၁၀-၂၀၁၄ | ၂၃ ရက် |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၁၁-၁၀-၂၀၁၄ | ၁၃-၁၁-၂၀၁၄ | |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ သဘောထား ဖြည့်စွက် ပြန်ကြားခြင်း | | ၁၃-၁၁-၂၀၁၄ | ၄၄ ရက် |
| | (ဃ) စက်မှုဝန်ကြီးဌာန (ပထမအကြိမ်)<br>စက်မှုဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၃၀-၉-၂၀၁၄ | ၂၀-၁၀-၂၀၁၄ | ၂၁ ရက် |
| ၃ | PAT တင်ပြခြင်း | ၂၉-၉-၂၀၁၄<br>၃၈/၂၀၁၄ | | |

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၃၀-၉-၂၀၁၄ | | |
| ၅ | PAT ဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | - | | လိုအပ်ချက် မရှိ၍ မပြန်ကြားပါ။ |
| ၆ | မြေကိစ္စအား ကော်မရှင်သို့တင်ပြခြင်း | ၇-၁၁-၂၀၁၄ (၂၆/၂၀၁၄) | | |
| ၇ | မြေကိစ္စအား စီးပွားရေးရာ ကော်မတီသို့ တင်ပြခြင်း | ၄-၁၂-၂၀၁၄ (၃၅/၂၀၁၄) | | ပြည်ထောင်စုအစိုးရအဖွဲ့သို့ ဆက်လက်တင်ပြမည် ဖြစ်ပါသည်။ |
| ၈ | ကုမ္ပဏီ မှ အဆိုပြုချက် ပြန်လည်ပြင်ဆင်တင်ပြလာသည့်နေ့ | ၁၆-၁၂-၂၀၁၄ | | တွက်ချက်မှုများနှင့် အထောက်အထားများပြင်ဆင်တင်ပြခြင်းဖြစ်ပါသည်။ |
| ၉ | ကုမ္ပဏီမှ အဆိုပြုချက် (၁၀) စုံ ပေးပို့ခြင်း | ၁၇-၁၂-၂၀၁၄ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၈၆ ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Agarwin Keystone Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - သစ်မွှေးစိုက်ပျိုးခြင်းနှင့် သစ်မွှေးဆီ ထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်း ဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ လှည်းကူး မြို့နယ်၊ ငွေးတောက်အိုင် ကျေးရွာ အုပ်စု၊ ကွင်းအမှတ် - ၉၃၇၈ ထောက်ကျန့်ကုန်းကွင်း |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ၂.၀၄၂ သန်း |
| ရောင်းချမည့်စနစ် | - ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - ၁၈ နှစ် |
| အရင်းကြေကာလ | - ၈ နှစ် ၅ လ |
| IRR | - ၉% |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု ဟင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၁.၅၄၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၀ | ၀ |
| ၅ | ဝင်ငွေခွန် | ၇၃၆.၁၂၅ | ၁၈၂၄.၂၂၅ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၅၆.၅၅၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော် ပါကအခွန်ပေးရမည့် ဝန်ထမ်း (၄) ဦး |
| ၈ | CSR (၁%) | | ၅၄.၆၀၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၈.၀၀၀ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၉၅ ဦး<br>ပြည်တွင်းလုပ်သား (၉၅) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၇၃၇.၆၇၃ | ၁၉၅၄.၅၄၀ |
| | Cost & Benefit | ၁:၃ | |

အကြောင်းအရာ။ **Agarwin Keystone Company Limited မှ ဖက်စပ် ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်မွှေးစိုက်ပျိုးခြင်းနှင့် သစ်မွှေးဆီ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Agarwin Keystone Company Limited<br>- ဦးကျော်ထွန်းဝင်း | | |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်ရင်းနှီးမြှုပ်နှံမှု<br>- Scientific Industrial Systems, INC. (အမေရိကန်) ၅၉%<br>- Mr. Robert Kepley Walsh (အမေရိကန်) ၁%<br>- Agar Win Diamond Family Group Co., Ltd. (မြန်မာ) ၂၀%<br>- ဦးအုန်းဝင်း (မြန်မာ) ၂၀% | | |
| | လုပ်ငန်းအမျိုးအစား | - သစ်မွှေးစိုက်ပျိုးခြင်းနှင့် သစ်မွှေးဆီထုတ်လုပ်ခြင်း လုပ်ငန်း | | |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ လှည်းကူးမြို့နယ်၊ ထွေးတောက်အိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် - ၉၃၇ ^C^ ထောက်ကျန့်ကုန်းကွင်း | | |
| | မြေပိုင်ရှင် | - ဦးကျော်ထွန်းဝင်းနှင့် ဦးအုန်းဝင်း | | |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၂၀ ဧက | | |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၁.၀ သန်း<br>(တစ်နှစ် တစ်စတုရန်းမီတာလျှင် ၁၂.၃၅ ကျပ်) | | |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၁၈ နှစ် | | |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် | | |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၂.၀၄၁ သန်း | | |
| | ထည့်ဝင်သည့်အမျိုးအစား | Foreign Capital (US$ သန်း) | Local Capital (US$ သန်း) | စုစုပေါင်း (US$ သန်း) |
| | ငွေသား | ၁.၂၀၀ | ၀.၃၈၇ | ၁.၅၈၇ |
| | မြေနှင့်အဆောက်အဦ | | ၀.၂၅၄ | ၀.၂၅၄ |
| | စက်နှင့် စက်ပစ္စည်း (ပြည်တွင်းဝယ်) | | ၀.၀၃၉ | ၀.၀၃၉ |
| | ကုန်ကြမ်း(ပထမနှစ်)(ပြည်တွင်းဝယ်) | | ၀.၀၃၂ | ၀.၀၃၂ |
| | ကုန်ကြမ်း(ဒုတိယနှစ်)(ပြည်တွင်းဝယ်) | | ၀.၀၄၁ | ၀.၀၄၁ |
| | မော်တော်ယာဉ် (ပြည်တွင်းဝယ်) | | ၀.၀၈၄ | ၀.၀၈၄ |
| | ရုံးသုံးပရိဘောဂ (ပြည်တွင်းဝယ်) | | ၀.၀၀၄ | ၀.၀၀၄ |
| | **စုစုပေါင်း** | ၁.၂၀၀ | ၀.၈၄၁ | ၂.၀၄၁ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၉၅ ဦး |
| | ပြည်တွင်း | - ၉၅ ဦး ( ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၉၀,၀၀၀နှင့်အမြင့်ဆုံးလစာကျပ် ၃၃၀,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်ပပို့ |
| ၈။ | ကုမ္ပဏီမှ(အဋ္ဌမမြောက်နှစ်)တွင်ရရှိမည့် | |
| | ဝင်ငွေ | - US$ ၃.၅၀ သန်း |
| | အသုံးစရိတ် | - US$ ၁.၂၃ သန်း |
| | အသားတင်အမြတ် | - US$ ၂.၂၇ သန်း |
| ၉။ | နိုင်ငံတော်မှပုံမှန်နှစ်(အဋ္ဌမမြောက်နှစ်)တွင် ရရှိမည့်အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - US$ ၀.၇၆ သန်း |
| | အရင်းကြေကာလ | - ၈ နှစ် ၅ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၉ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၀၀၀ kWh |
| ၁၁။ | CSR | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန် အသားတင် အမြတ်ငွေမှ ၁% ကို ရန်ပုံငွေအဖြစ် လျာထားပါကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - လီတာ(၁၈၀၀)ဆန့် ရေစင်များ၊ မီးသတ်ပိုက်များ စီမံ ထားရှိခြင်း၊ ရေကန်များ၊ ရေမြှုပ်ပန့်များ၊ ၅ ကေအလိုက် ၁၀ ပေခြား မီတာလမ်းများ၊ ချုံများရှင်းလင်းထားရှိခြင်း၊ အလုပ်သမား အဆောင်များတွင် မီးချိတ်၊ မီးကပ်များ၊ မီးသတ်ဆေးဘူးများ ထားရှိခြင်း၊ ရေသယ်ကား တစ်စီး အား အရေးပေါ်ပန့်တပ်ဆင်၍ မီးသတ်လိုင်းများ တပ်ဆင် ထားခြင်းတို့ကို ဆောင်ရွက်ထားပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၂/န - ၁၁၂ / ၂၀၁၄ ( ၀၂၄၂ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Agarwin Keystone Company Limited မှ ဖက်စပ် ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်မွှေးစိုက်ပျိုးခြင်းနှင့် သစ်မွှေးဆီ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ အမေရိကန်နိုင်ငံမှ Scientific Industrial Systems, INC. မှ ၅၉% ၊ အမေရိကန်နိုင်ငံမှ Mr. Robert Kepley Walsh မှ ၁%၊ မြန်မာနိုင်ငံမှ Agar Win Diamond Family Group Co., Ltd. မှ ၂၀% နှင့် မြန်မာနိုင်ငံမှ ဦးအုန်းဝင်း မှ ၂၀% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ လှည်းကူးမြို့နယ်၊ ထွေးတောက်အိုင် ကျေးရွာအုပ်စု၊ ကွင်းအမှတ် - ၉၃၇ C ထောက်ကျန့်ကုန်းကွင်း ရှိ မြေအကျယ် (၂၀) ဧကတွင် Agarwin Keystone Company Limited တည်ထောင်၍ သစ်မွှေးစိုက်ပျိုးခြင်း နှင့် သစ်မွှေးဆီထုတ်လုပ်ခြင်းလုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးကျော်ထွန်းဝင်း၊ ဦးအုန်းဝင်းနှင့် မြေငှားသူ Agarwin Keystone Company Limited တို့ချုပ်ဆိုထားမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)၊ မြေပိုင်ရှင် ဦးကျော်ထွန်းဝင်း၊ ဦးအုန်းဝင်း တို့၏ မြေပိုင်ဆိုင်မှုအထောက်အထားနှင့် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများကို နှစ်ရှည်သီးပင်/ ဥယျာဉ်ခြံသီးနှံ စိုက်ပျိုးမှုအတွက် လုပ်ပိုင်ခွင့်ပြုသော အမိန့်စာ တင်ပြထားပါသည်။

၃။ မြေအကျယ် ၂၀ ဧက အတွက် နှစ်စဉ် မြေငှားရမ်းခမှာ တစ်နှစ်လျှင် ကျပ် ၁.၀ သန်း ဖြင့် ၁၈ နှစ် အတွက် ကျပ် ၁၈.၀ သန်းဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၁၈ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၂.၀၄၁ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | Foreign Capital (US$ သန်း) | Local Capital (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၁.၂၀၀ | ၀.၃၈၇ | ၁.၅၈၇ |
| (ခ) | မြေနှင့်အဆောက်အဦ | | ၀.၂၅၄ | ၀.၂၅၄ |
| (ဂ) | စက်နှင့် စက်ပစ္စည်း (ပြည်တွင်းဝယ်) | | ၀.၀၃၉ | ၀.၀၃၉ |
| (ဃ) | ကုန်ကြမ်း(ပထမနှစ်) (ပြည်တွင်းဝယ်) | | ၀.၀၃၂ | ၀.၀၃၃ |
| (င) | ကုန်ကြမ်း(ဒုတိယနှစ်) (ပြည်တွင်းဝယ်) | | ၀.၀၄၁ | ၀.၀၄၁ |
| (စ) | မော်တော်ယာဉ် (ပြည်တွင်းဝယ်) | | ၀.၀၈၄ | ၀.၀၈၄ |
| (ဆ) | ရုံးသုံးပရိဘောဂ (ပြည်တွင်းဝယ်) | | ၀.၀၀၄ | ၀.၀၀၄ |
| | **စုစုပေါင်း** | ၁.၂၀၀ | ၀.၈၄၁ | ၂.၀၄၁ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၉၅ ဦးနှင့် ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၃၃၀,၀၀၀ ဖြစ် ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ပစ္စည်းများအား ရခိုင်နိုင်ငံပြည့် ပြည်ပသို့ တင်ပို့ ရောင်းချမည်ဖြစ်ပြီး အဋ္ဌမမြောက်နှစ် ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **အမျိုးအမည်** | **အရေအတွက်** (Tora) | **ရောင်းချမည့် ဈေးနှုန်း** (US$/ Tora) |
|---|---|---|
| Agarwood Oil Tora | ၂၈,၀၀၀ | ၁၂၅ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (အငွေမပြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**အမေရိကန်ဒေါ်လာ**

**(သန်း)**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၃.၅၀ |
| (ခ) | အသုံးစရိတ် | ၁.၂၃ |
| (ဂ) | အသားတင်အမြတ် | ၂.၂၇ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ အငွေမပြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၇၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၈ နှစ်နှင့် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၉% ဖြစ် ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ မူလသီးနှံပြောင်းလဲစိုက်ပျိုးခြင်း (သို့မဟုတ်) မူလသီးနှံအကြားတွင် ထပ်မံ၍ ကြားညှပ်စိုက်ပျိုးခြင်းများအတွက် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီသို့ လျှောက်ထားခွင့်ပြုချက် ရယူပြီးမှသာ ဆောင်ရွက်ခွင့် တင်ပြသင့်ပါကြောင်း သဘောထားပြန်ကြားထား ပါသည်။ **(ကုမ္ပဏီမှ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီသို့ လျှောက်ထားခွင့်ပြုချက် ရယူရန် တင်ပြလျှောက်ထားကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့် တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းပညာများ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် ကတိ ကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက် သွားရန်၊ လုပ်ငန်းကြောင့် ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး

မဖြစ်ပေါ်စေရေးတို့အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအမံများ၊ လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းရေး အစီအမံများ၊ စောင့်ကြည့်လေ့လာမည့်အစီအမံများ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး လုပ်ငန်းများဆောင်ရွက်ရန်အတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက် (EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာ အရ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန် ပထမအကြိမ် သဘောထား မှတ်ချက် ပြန်ကြားထားပြီး၊ ဒုတိယအကြိမ်အနေဖြင့် သစ်မွှေးသည် CITES Appendix II စာရင်းဝင်ဖြစ်သည့်အတွက် သစ်မွှေးအား စီးပွားဖြစ် စိုက်ပျိုးလိုသူသည် သစ်တော ဦးစီးဌာနတွင် စိုက်ပျိုးထုတ်လုပ်ခွင့်ကို လိုအပ်သည့် သတ်မှတ်ချက်များ အတိုင်း လျှောက်ထားရန် လိုအပ်ကြောင်း၊ ၎င်းလိုအပ်ချက်များ အားပြင်ဆင်၍ ကော်မရှင်သို့ ပြန်လည်တင်ပြပါရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထား မှတ်ချက်များ အတိုင်း ဆောင်ရွက်လျက်ရှိကြောင်း ဆောင်ရွက်ပြီးစီးမှုများကို ဆက်လက်တင်ပြမည် ဖြစ်ကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ် စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ C B Bank မှ (၂၄-၉-၂၀၁၄) ရက်စွဲ ဖြင့် Agarwin Diamond Family Group Co., Ltd. သည် A/C No. 3460(2012-2013) ဖြင့် ကျပ် ၆၀.၆ သန်း ရှိကြောင်း၊ PNC bank မှ (၈-၄-၂၀၁၄) ရက်စွဲဖြင့် Mr. Daniel C. Arnold နှင့် Dr. Linda M. Chaille- Arnold သည် ၎င်းဘဏ်၌ ခိုင်မာသော ငွေကြေးအပ်နှံမှု ထားရှိကြောင်း အထောက်အထား တင်ပြထားပါသည်။

၁၂။ Agarwin Keystone Company Limited မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (EMP) လုပ်ငန်းအစီရင်ခံစာ အပြည့်အစုံကို ဆက်လက်တင်ပြမည်ဖြစ်ကြောင်း တင်ပြစာ၊

မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်း သက်သာချောင်ချိရေးစီမံချက်၊ ကျန်းမာရေးစောင့်ရှောက်မှု စီမံချက်၊ လစာခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း သဘာဝပတ်ဝန်းကျင်ဆိုင်ရာ ကနဦး ဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုး အစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၂၉ ရက်နေ့တွင် ကျင်းပပြုလုပ် သည့် ၃၈/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၂၆/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးနှင့် စီးပွားရေးရာ ကော်မတီ၏ ၃၅/၂၀၁၄ ကြိမ်မြောက်အစည်းအဝေးတို့သို့ တင်ပြထားပြီး ပြည်ထောင်စု အစိုးရအဖွဲ့ ၂၅/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက် တင်ပြထား ပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

အမေရိကန်နိုင်ငံမှ Scientific Industrial Systems, INC. မှ ၅၉%၊ Mr. Robert Kepley Walsh မှ ၁%၊ မြန်မာနိုင်ငံမှ Agar Win Diamond Family Group Co., Ltd. မှ ၂၀% နှင့် ဦးအုန်းဝင်းမှ ၂၀% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ လှည်းကူးမြို့နယ်၊ ဝွေးတောက်အိုင်ကျေးရွာအုပ်စု၊

ကွင်းအမှတ် - ၉၃၇ ^C^ ထောက်ကျန့်ကုန်းကွင်း ရှိ မြေအကျယ် (၂၀) ဧကတွင် Agarwin Keystone Company Limited တည်ထောင်၍ သစ်မွှေးစိုက်ပျိုးခြင်းနှင့် သစ်မွှေးဆီ ထုတ်လုပ်ခြင်း လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ကန့်သတ်

၁၂

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Agarwin Keystone Company Limited | (၁) Agar Win Diamond Family Group Co., Ltd. (Represented by) ဦးကျော်ထွန်းဝင်း ၁၂/ကတတ(နိုင်) ၀၃၂၈၈၁ | အမှတ် ၂၅၈၊ ဗားကရာလမ်း၊စမ်းချောင်း မြို့နယ်၊ ရန်ကုန် |
| | | (၂) ဦးအုန်းဝင်း ၁၂/ကတတ(နိုင်) ၀၀၁၆၂၇ | အမှတ် ၂၃၉(ပထမထပ်)၊ ၃၅ လမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန် |
| | | (၃) Scientific Industrial Systems, INC. (Represented by) Dr. Linda Marie Chaille Arnold American PPNo-472231477 | P.O Box 310, 10 Deer Woods Lane, Point Pleasant, Pa 1950, USA |
| | | (၄) Mr. Robert Kepley Walsh American PPNo- 483768021 | Suite 405, Pearl Condos, Block C, Kabaraye Pagoda Road, Bahan Township, Yangon |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉-၅၁၁၇၂၂၆ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ် ၂၅၈၊ ဗားကရာလမ်း၊စမ်းချောင်း မြို့နယ်၊ ရန်ကုန် |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးကျော်ထွန်းဝင်း |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - သစ်မွေးစိုက်ပျိုးခြင်းနှင့် သစ်မွေးဆီထုတ်လုပ်ခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - - |

ကန့်သတ်